အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Green Alliance Energy Co., Ltd. တည်ထောင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ လေးကေ့ကော်မြို့သစ်နှင့် ပတ်ဝန်းကျင်ရှိ ကျေးရွာများသို့ ဒီဇယ်ဆီသုံး Generator များဖြင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုတင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Green Alliance Energy Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးဝေဖြိုးသူ |
| | ရင်းနှီးမြှုပ်မှုပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ လေးကေ့ကော်မြို့သစ်နှင့် ပတ်ဝန်းကျင်ရှိ ကျေးရွာများသို့ ဒီဇယ်ဆီသုံး Generator များဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ကရင်ပြည်နယ်၊ မြဝတီမြို့၊ လေးကေ့ကော်မြို့သစ် ၊ မြေကွက်အမှတ် LKK - ၁/၃၀၉ ရှိ မြေ ၃ ဧက၊ မြေကွက်အမှတ် LKK - ၁/၃၁၀ ရှိ မြေ ၂ ဧက နှင့် လေးကေ့ကော်မြို့သစ်၊ တပ်မဟာ (၆) ဘက်စုံစိုက်ပျိုးရေး ခြံအမှတ်(၁)ရှိ မြေ ၂ ဧက၊ စုစုပေါင်းမြေ ၇ ဧက |
| ၃။ | မြေပိုင်ရှင် | - Green Alliance Energy Co., Ltd. |
| | မြေအကျယ်အဝန်း | - ၇ ဧက (၂၈,၃၂၈.၀၂ စတုရန်းမီတာ) |
| | နှစ်စဉ်မြေငှားရမ်းခ | - မြေ ၂ ဧကအတွက် တစ်နှစ်လျှင် ကျပ်သိန်း ၁၂၀ |
| | မြေငှားရမ်းသည့်သက်တမ်း | - ၂ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - |
| ၅။ | တည်ဆောက်မှုကာလ | - ၁၂ လ |

| | | |
|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - ကျပ် ၇,၈၉၀.၀၃ သန်း ( အမေရိကန်ဒေါ်လာ ၁.၁၈ သန်းအပါအဝင်) |
| | ထည့်ဝင်သည့်အမျိုးအစား | ကျပ်(သန်း) / US$ (သန်း) / စုစုပေါင်း ကျပ်(သန်း) |
| | ငွေသား | ၁,၀၀၀.၀၀ / - / ၁,၀၀၀.၀၀ |
| | မြေတန်ဖိုး | ၃၂၀.၀၀ / - / ၃၂၀.၀၀ |
| | စက်ပစ္စည်း | ၁,၂၇၈.၂၃ / ၀.၇၇၂ / ၂,၃၀၀.၂၄ |
| | အဆောက်အဦးနှင့် ဆီသိုလှောင်ကန် | ၆၅၁.၅၀ / - / ၆၅၁.၅၀ |
| | Generator &Accessories ငှားရမ်းခ | ၃,၀၂၃.၇၇ / - / ၃,၀၂၃.၇၇ |
| | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | ၁၆.၀၇ / - / ၁၆.၀၇ |
| | ရုံးသုံးပစ္စည်း | ၃၇.၄၅ / - / ၃၇.၄၅ |
| | ယာဉ်ယန္တရား | - / ၀.၄၀၈ / ၅၄၀.၀၀ |
| | စုစုပေါင်း | ၆,၃၂၇.၀၂ / ၁.၁၈၀ / ၇,၈၉၀.၀၃ |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း (၁၀၀%) |
| ၈။ | ရောင်းဈေးနှုန်း | **အရေအတွက် (ယူနစ်)** / **တစ်ယူနစ်ရောင်းဈေးနှုန်း (ကျပ်)** |
| | | ၁၅,၅၅၂,၀၀၀ / အိမ်သုံး ၃၃၆ |
| | | စက်မှုလုပ်ငန်းသုံး ၃၇၈ |
| ၉။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း** / **ပြည်ပ** |
| | | ဦးရေ ၃၈ ဦး / - |
| | | အနိမ့်ဆုံးလစာ ကျပ် ၁၅၀,၀၀၀ |
| | | အမြင့်ဆုံးလစာ ကျပ် ၁,၅၀၀,၀၀၀ |
| ၁၀။ | အခြားတင်ပြချက် | -ငွေကြေးအထောက်အထားအဖြစ် Green Alliance Energy Co., Ltd. အမည်ဖြင့် Yoma Bank ၌ ၁၅-၃-၂၀၁၈ရက်နေ့တွင် ကျပ် ၃,၀၀၀,၀၀၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။<br><br>-ကရင်ပြည်နယ် အစိုးရအဖွဲ့နှင့် Green Alliance Energy Co., Ltd. တို့အကြား ၂၀၁၈ ခုနှစ် မတ်လ ၉ ရက်နေ့၌ လက်မှတ်ရေးထိုးချုပ်ဆိုထားသော လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းပဋိညာဉ်စာချုပ်အား တင်ပြ ထားပါသည်။ |

| | | |
|---|---|---|
| | | -လုပ်ငန်းဆောင်ရွက်မည့်နေရာ၏ Survey Map, Site Plan, Layout Plan, Floor Plan, လေးကျေကော်၊ မင်းလက်ပံ၊ ဖလူးကြီး+ ဖလူးလေး၊ အင်ကြင်းမြိုင်၊ ဖလူးကြီး+ ဖလူးလေး၊ မဲထော်သလေး၊ မဟိကလော၊ ထီးမဲဝခီးစသည့် ကျေးရွာများ နှင့် ဆက်သွယ်မည့် 22 kV line and 400V Network Plan တို့အား တင်ပြထားပါသည်။<br>- လျှပ်စစ်ဓာတ်အား 2 MW ထုတ်လုပ်ရန်အတွက် Green Alliance Energy Co., Ltd. နှင့် Aggreko International Projects Limited (UK) တို့အကြား ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၁၇ ရက်နေ့ ရက်စွဲဖြင့် လက်မှတ်ရေးထိုး ချုပ်ဆိုထားသော Temporary Power Rental Agreement အား တင်ပြထားပါသည်။<br>-လုပ်ငန်းဆောင်ရွက်မည့် မြေ ၇ ကေအနက် မြေကွက်အမှတ် LKK - ၁/၃၀၉ ရှိ မြေ ၃ ကေ နှင့် မြေကွက်အမှတ် LKK - ၁/၃၁၀ ရှိ မြေ ၂ ကေ စုစုပေါင်းမြေ ၅ ကေအား မြေပိုင်ရှင် ဦးစောနယ်ဒါးထူးမှ ရင်းနှီးမြှုပ်နှံသူ ဦးဝေဖြိုးသူ မှ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၁၀ ရက်နေ့ ရက်စွဲဖြင့် ဝယ်ယူထားသည့် မြေအရောင်းအဝယ် စာချုပ်အား တင်ပြထားပါသည်။<br>-လေးကျေကော်မြို့သစ်၊ တပ်မဟာ (၆) ဘက်စုံ စိုက်ပျိုးရေးခြံအမှတ် (၁)ရှိ မြေ ၂ ကေအား မြေပိုင်ရှင် ဦးစောနယ်ဒါးထူးမှ ရင်းနှီးမြှုပ်နှံသူ ဦးဝေဖြိုးသူသို့ ၂ နှစ် ငှားရမ်းထားသည့် မြေငှားစာချုပ် အား တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | -အဆိုပြုလုပ်ငန်းသည်ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC 351 တွင် အကျုံးဝင်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၅(လ)/အ-၀၀၅/၂၀၁၈( ၁၂၅ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၁၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Green Alliance Energy Co., Ltd. တည်ထောင်ပြီး ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ လေးကေ့ကော် မြို့သစ်နှင့် ပတ်ဝန်းကျင်ရှိ ကျေးရွာများသို့ ဒီဇယ်ဆီသုံး Generator များဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုတင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Green Alliance Energy Co., Ltd. တည် ထောင်ပြီး ကရင်ပြည်နယ်၊ မြဝတီမြို့၊ လေးကေ့ကော်မြို့သစ် ၊ မြေကွက်အမှတ် LKK - ၁/၃၀၉ ရှိ မြေ ၃ ဧက၊ မြေကွက်အမှတ် LKK - ၁/၃၁၀ ရှိ မြေ ၂ ဧက နှင့် KNU တပ်မဟာ (၆) ဘက်စုံ စိုက်ပျိုး မွေးမြူရေးခြံအမှတ်(၁)ရှိ မြေ ၂ ဧက၊ စုစုပေါင်းမြေ ၇ ဧကတွင် ဒီဇယ်ဆီသုံး Generator များဖြင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အတည်ပြုချက်တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ ကရင်ပြည်နယ်အစိုးရအဖွဲ့နှင့် Green Alliance Energy Co., Ltd. တို့အကြား ၂၀၁၈ ခုနှစ် မတ်လ ၉ ရက်နေ့တွင် လက်မှတ်ရေးထိုး ချုပ်ဆိုထားသော လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း ပဋိညာဉ်စာချုပ်အား တင်ပြထားပါသည်။ လျှပ်စစ်ဓာတ်အား 2 MW ထုတ်လုပ်ရန်အတွက် Green Alliance Energy Co., Ltd. နှင့် Aggreko International Projects Limited(UK) တို့အကြား ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၁၇ ရက်နေ့ ရက်စွဲဖြင့် လက်မှတ်ရေးထိုး ချုပ်ဆိုထားသော Temporary Power Rental Agreement အား တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေ ၇ ဧကအနက် မြေကွက်အမှတ် LKK - ၁/၃၀၉ ရှိ မြေ ၃ ဧကနှင့် မြေကွက်အမှတ် LKK - ၁/၃၁၀ ရှိ မြေ ၂ ဧက စုစုပေါင်းမြေ ၅ အား မြေပိုင်ရှင် ဦးစောနယ်ဒါးထူးထံမှ ရင်းနှီးမြှုပ်နှံသူ ဦးဝေဖြိုးသူ မှ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၁၀ ရက်နေ့ ရက်စွဲဖြင့် ဝယ်ယူထားသည့် မြေအရောင်းအဝယ်စာချုပ်အား တင်ပြထားပါသည်။ လေးကေ့ကော်မြို့သစ်၊ တပ်မဟာ (၆) ဘက်စုံ စိုက်ပျိုးရေးခြံအမှတ် (၁)ရှိ မြေ ၂ ဧကအား မြေပိုင်ရှင်

ဦးစောနယ်ဒါးထူးမှ ရင်းနှီးမြှုပ်နှံသူ ဦးဝေဖြိုးသူသို့ ၂ နှစ် ငှားရမ်းထားသည့် မြေငှားစာချုပ်အား တင်ပြထားပါသည်။

၄။ တည်ဆောက်ရေး ကာလမှာ တစ်နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၁၈အပါအဝင် ကျပ် ၇,၈၉၀.၁၃ သန်းဖြစ်ပြီး မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| ထည့်ဝင်သည့်အမျိုးအစား | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| ငွေသား | ၁,၀၀၀.၀၀ | - | ၁,၀၀၀.၀၀ |
| မြေတန်ဖိုး | ၃၂၀.၀၀ | - | ၃၂၀.၀၀ |
| စက်ပစ္စည်း | ၁,၂၇၈.၂၃ | ၀.၇၇၂ | ၂,၃၀၀.၂၄ |
| အဆောက်အဦနှင့်ဆီသိုလှောင်ကန် | ၆၅၁.၅၀ | - | ၆၅၁.၅၀ |
| Generator &Accessories ငှားရမ်းခ | ၃,၀၂၃.၇၇ | - | ၃,၀၂၃.၇၇ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | ၁၆.၀၇ | - | ၁၆.၀၇ |
| ရုံးသုံးပစ္စည်း | ၃၇.၄၅ | - | ၃၇.၄၅ |
| ယာဉ်ယန္တရား | - | ၀.၄၀၈ | ၅၄၀.၀၀ |
| **စုစုပေါင်း** | **၆,၃၂၇.၀၂** | **၁.၁၈၀** | **၇,၈၉၀.၁၃** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း ၃၈ ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ်၁၅၀,၀၀၀ နှင့်အမြင့်ဆုံးလစာမှာကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော လျှပ်စစ်ဓာတ်အား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ လျှပ်စစ်ဓာတ်အား(ပထမနှစ်)တွင် ထုတ်လုပ်မည့် အရေအတွက်နှင့်တစ်ယူနစ်ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **အရေအတွက် (ယူနစ်)** | **တစ်ယူနစ်ရောင်းဈေးနှုန်း** | **(ကျပ်)** |
|---|---|---|
| ၁၅,၅၅၂,၀၀၀ | အိမ်သုံး | ၃၃၆ |
| | စက်မှုလုပ်ငန်းသုံး | ၃၇၈ |

၈။ ငွေကြေးအထောက်အထားအဖြစ် Green Alliance Energy Co., Ltd. အမည်ဖြင့် Yoma Bank ၌ ၁၅-၃-၂၀၁၈ ရက်နေ့တွင် ကျပ် ၃,၀၀၀,၀၀၀,၀၀၀ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်းတင်ပြထားပါသည်။

(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ- ၃၆ အရ အဆိုပြုလုပ်ငန်းသည် ကော်မရှင်၏ ခွင့်ပြုမိန့် ရယူဆောင်ရွက်ရမည့်စာရင်းတွင် ပါဝင်ခြင်းမရှိသဖြင့် အတည်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်ကြောင်း စိစစ်ရပါသည်။

(ဃ) မွန်ပြည်နယ်တွင် အဆိုပြုလုပ်ငန်းအမျိုးအစားနှင့် အလားတူလုပ်ငန်းဖြစ်သည့် အသေးစား လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ၂ ခု အနေဖြင့် မြတ်သူရစက်မှုလက်မှုကုမ္ပဏီလီမိတက်နှင့် အရှေ့တောင် အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်တို့အား ကော်မရှင်မှ အတည်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ Green Alliance Energy Co., Ltd. တည်ထောင်ပြီး ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ လေးကေ့ကော်မြို့သစ်နှင့် ပတ်ဝန်းကျင်ရှိ ကျေးရွာများသို့ ဒီဇယ်ဆီသုံး Generator များဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ